မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၃၆၉/၂၀၀၀ ၂၀၀၀ ပြည့်နှစ်၊ ဧပြီ လ ၂၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးတင်အေး

(ခ) အဘအမည် ဦးမောင်ဟန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၄/ဖပန(နိုင်)၀၁၁၃၇၁

(ဃ) နေရပ်လိပ်စာ ၄၇၊ သီရိတခွန်လမ်း ၊ ၁၆ ရပ်ကွက်၊ ဖျာပုံမြို့နယ်၊ ဧရာဝတီတိုင်း

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဖျာပုံပင်လယ်ကျားပိုက် ကုမ္ပဏီလီမိတက်(Phyar Poun Pinle Kyar Pike Co., Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ငါး ပုဇွန်များ အခြေခံ၍ ကုန်ချောထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဦးပိုင်အမှတ် (၃၇/၁၇) ဘုန်း ပင်နေကွန်း ကွင်း ၊ ကွင်းအမှတ် (၄၅၂-စီ) ချောင်းတွင်းကျေးရွာ၊ ဖျာပုံမြို့နယ်၊ ဧရာဝတီတိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၅၀.၅၇) သန်း (ကျပ်သန်း ငါးဆယ်နှင့် ငါးသိန်းခုနှစ်သောင်းခန့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**အမိန့် ကြော်ငြာစာအမှတ် ၂၈၉/၂၀၀၀ (မနသ)**
**ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ တန်ခူးလပြည့်ကျော် ၂ ရက်။**
**(၂၀၀၀ ပြည့်နှစ်၊ ဧပြီလ ၂၀ ရက်)**

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.) မှ ဦးတင်အေး အမည်ဖြင့် ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီထံမှ အသုံးပြုခွင့် ရရှိထားသော ဧရာဝတီတိုင်း၊ ဖျာပုံမြို့နယ်၊ ချောင်းတွင်းကျေးရွာ၊ ကွင်းအမှတ် (၄၅၂–စီ) အုန်းပင်မနိကျွန်းကွင်း ဦးပိုင်အမှတ် (၃၇/၁၇)ရှိ မြေ(၂.၅၉)ဧက (၁၀၄၈၁.၃၇ စတုရန်းမီတာ)ပေါ်တွင် စက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန်များ အခဲခံ၍ ကုန်ချော ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၁–၂–၂၀၀၀) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ (၁၄–၃–၂၀၀၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၄/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၄–၄–၂၀၀၀)နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏(၁၃/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.) အား ငါး၊ ပုစွန်များ အခဲခံ၍ ကုန်ချော ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ– ၃၆၉/၂၀၀၀ ကို ထုတ်ပေးလိုက်သည်။

၂။ ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက်လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှုအခြေအနေကိုဖော်ပြလျက်ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်

အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကိုသီးသန့်ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင်ထိုအမြတ်ငွေအပေါ်တွင်ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံးမတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှါးချထားသူ ဦးတင်အေး နှင့် အငှါးချထားခြင်း ခံရသူ ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.) တို့ ချုပ်ဆိုမည့် မြေငှါးသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၈။ ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၉။ ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၅၃၇/၂၀၀၀ (၂၅၀-၄)

ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဧပြီလ၂၀ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီ။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၃။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။

၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ဖျာပုံ ပင်လယ် ကျားပိုက် ကုမ္ပဏီ လီမိတက် (Phyar Poun Pinle Kyar Pike Co., Ltd.)။

ပြည်ထောင်စု မြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01-282101

တယ်လီဖုန်း - ၂၇၂၉၁၂၊ ၂၇၂၁၁၉၊ ၂၇၂၃၉၁။

စာအမှတ်၊ ရက-၁/မ-၅၃၇/၂၀၀၀ (၃၅ ၂၉-၄)
ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၀ ရက်။

အကြောင်းအရာ။ ဖျာပုံပင်လယ်ကျားပိုက် ကုမ္ပဏီ လီမိတက်၏ ခွင့်ပြုမိန့် (မူရင်း)တွင် ရင်းနှီးမြှုပ်နှံမှု ထပ်မံတိုးမြှင့် ခွင့်ပြုပါရန်နှင့် တင်ပြလာခြင်းကိစ္စ။

ရည် ညွှန်း ချက်။ ဖျာပုံပင်လယ်ကျားပိုက် ကုမ္ပဏီ လီမိတက်၏ (၁၅-၁-၂၀၀၁) ရက်စွဲပါစာအမှတ်၊ ၄၇/အစရ/၂၀၀၁/မနသ။

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇-၁၂-၂၀၀၀) နေ့တွင် ကျင်းပသော (၄၀/၂၀၀၀) ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အရ ဖျာပုံပင်လယ်ကျားပိုက် ကုမ္ပဏီ လီမိတက်၏ ရင်းနှီးမြှုပ်နှံမှု ပမာဏအား ကျပ်(၅၀.၅၇)သန်း (ကျပ်သန်း ငါးဆယ်နှင့် ငါးသိန်းခုနစ်သောင်းခန့်)မှ ကျပ်(၆၃.၇၇)သန်း (ကျပ်ခြောက်ဆယ့်သုံးသန်းနှင့် ခုနစ်သိန်း ခုနစ်သောင်း တိတိ)သို့ တိုးမြှင့်ခြင်းကို ခွင့်ပြုလိုက်သည်။

၂။ အထက်ပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးခဲ့သော(၂၀-၄-၂၀၀၀) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ-၃၆၉/၂၀၀၀တွင် ဖော်ပြထားသော ပမာဏကို ကျပ် (၆၃.၇၇) သန်း (ကျပ်ခြောက်ဆယ့် သုံးသန်းနှင့် ခုနစ်သိန်း ခုနစ်သောင်းတိတိ) သို့ ပြင်ဆင်ပြောင်းလဲလိုက်သည်။

၃။ ဖျာပုံပင်လယ်ကျားပိုက် ကုမ္ပဏီ လီမိတက်သည် လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များအဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ဖျာပုံပင်လယ်ကျားပိုက် ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန်ထားသည့် (၂၀-၄-၂၀၀၀)ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၂၈၉/၂၀၀၀(မနသ)ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(ဦးသောင်း)
ဥက္ကဋ္ဌ

အုပ်ချုပ်မှု ဒါရိုက်တာ
ဖျာပုံပင်လယ်ကျားပိုက် ကုမ္ပဏီ လီမိတက်

